# မေတ္တာနန္ဒကျောင်းကို သမိုင်းပြုစုခြင်း

ဘိက္ခုဓမ္မပိယ (USA)



(အပိုင်း ၁)

## မေတ္တာနန္ဒဂိဟာရ စတင်မွေးဖွားခြင်း

မွေးဖွားခြင်းဆိုတဲ့ အသုံးအနှုန်းသည် များသောအားဖြင့် သက်ရှိသတ္တဝါများ၌သာ အသုံးပြုလေ့ရှိသော်လည်း တစ်ခါတစ်ရံများမှာတော့ မြို့များ၊ ရွာများ၊ ကျောင်းများစတင် တည်ထောင်ရာနှစ်ကို အစွဲပြုလျှက် မွေးဖွားခြင်းဆိုတဲ့ အသုံးအနှုန်းများ သုံးစွဲတတ်ကြသည်ကို တွေ့ရှိရသည်။

မေတ္တာနန္ဒဂိဟာရ ဓမ္မရိပ်သာကို ၁၉၉၉-ခုနှစ်၊ ဩဂုတ်လ (၁၁)ရက်နေ့တွင် အမေရိကန်နိုင်ငံ၊ ကာလီဖိုးနီးယားပြည်နယ်၊ ဖရီးမောင့်မြို့၌ စတင်တည်ထောင်ခဲ့သည်။ မေတ္တာနန္ဒဂိဟာရ ဓမ္မရိပ်သာ၏ တည်နေရာ လိုကေးရှင်း (Location) လိပ်စာမှာ - 4619 Central Ave. Fremont, CA 94536, USA – Ph: ( 510) 795-0405 ဖြစ်သည်။ တည်ထောင်စနှစ်တွင် မေတ္တာနန္ဒဂိဟာရ၌ သံဃာတော်(၃)ပါး စတင်သီတင်းသုံး နေထိုင်ခဲ့ကြသည်။ ထိုသုံးပါးမှာ ဒေါက်တာအရှင်ဓမ္မပိယ၊ အရှင်ယသောဘိတာဘိဝံသ၊ အရှင်ဉာဏိကာဘိဝံသတို့ဖြစ်သည်။

ထိုသုံးပါးသည် စံလွန်တော်မူသွားပြီဖြစ်သော အနန္တကျေးဇူးတော်ရှင် ပဏ္ဍိတာရာမ ရွှေတောင်ကုန်းသာသနာ့ရိပ်သာ ဆရာတော်ဘုရားကြီး၏ အနီးနေတပည့်ရင်းများ ဖြစ်ခဲ့ကြသည်။ မူလက ကာလီဖိုးနီးယားပြည်နယ်၊ ဆန်ဟိုဆေးမြို့၌ တည်ရှိသော ရွှေတောင်ကုန်းသာသနာ့ရိပ်သာ ဆရာတော်ဘုရားကြီး၏ဩဂါဒခံ တထာဂတတရားရိပ်သာတွင် (၈)နှစ်ခန့် သီတင်းသုံးနေထိုင်ခဲ့ကြ သည်။ ထိုရိပ်သာ၌ နေထိုင်နေကြစဉ် "အခြေအနေနှင့် အချိန်အခါတို့သည် ဘဝတစ်ခုကို ပြောင်းလဲစေနိုင်သည်" ဟူသောစကားအရ ထိုကျောင်းမှ ပြောင်းရွှေ့နေထိုင်ဖို့ အခြေအနေတစ်ခု ဖြစ်ပေါ်လာခဲ့မှုကြောင့် တထာဂတတရားရိပ်သာမှ ဖရီးမောင့်မြို့ မေတ္တာနန္ဒကျောင်းသို့ ထိုသုံးပါး ပြောင်းရွှေ့လာခဲ့ကြသည်။

ကျောင်းသစ်တည်ပြီး မကြာခင်အချိန်မှာပင် "စိန်နားကပ်ရောင်ကြောင့် ပါးပြောင်ခဲ့ သည်" ဟု ပြောကြလေမလားမသိ။ မေတ္တာနန္ဒဂိဟာရ ဓမ္မရိပ်သာသည် ဆန်ဖရန်စစ္စကို ဗေးဧရိယာမှာ လူသိများခဲ့သော ကျောင်းတစ် ကျောင်းဖြစ်လာခဲ့သည်။ လူသိများလာခြင်း၌ အခြားအကြောင်းများ စွာလည်း ရှိနိုင်ပါသည်။ (သံဃာတော်များ စွမ်းလှ၍ ဖြစ်လာသည်တော့ မဟုတ်ပါ)။ ထိုအကြောင်းများ စွာထဲမှ ထင်ရှားသော အကြောင်းများမှာ -

(၁) မဟာစည်နွယ်ဖွားဖြစ်တော်မူသော အနန္တကျေးဇူးတော်ရှင် ပဏ္ဍိတာရာမဆရာတော်ဘုရားကြီးသည် မဟာစည်သာသနာ့ရိပ်သာများ၏ ဩဝါဒါစရိယဆရာတော်ကြီးတစ်ပါးလည်းဖြစ်ခဲ့ပြီး၊ ရွှေတောင်ကုန်း သာသနာ့ရိပ်သာကြီး၏ ဦးစီးပဓာန နာယကဆရာတော်ဘုရားကြီးလည်းဖြစ်တော်မူသည်။ ဆရာတော်ကြီး၏ ဂုဏ်သတင်းသည် အထူးရှင်းပြနေစရာမလိုပဲ ကျော်ကြားပြီးဖြစ်နေ၍ ထိုရဟန်းတော်သုံးပါးသည် ပဏ္ဍိတာရာမဆရာတော်ဘုရားကြီး၏ အနီးနေတပည့်များ ဖြစ်ခဲ့ကြသည်ဆိုသည့် အနေအထားတစ်ခုတည်းနှင့်ပင် မဟာစည်အသိုင်းအဝိုင်းနှင့် ပဏ္ဍိတာရာမအသိုင်းအဝိုင်းတို့သည် ဂိုင်းဂန်းပံ့ပိုးပေးခဲ့ကြသည်။ ဤသည်မှာလည်း လူသိများခြင်း၏ အကြောင်းတစ်ကြောင်း ဖြစ်ပေလိမ့်မည်။

(၂) နောက်အကြောင်းတစ်ခုက မဟာစည်သာသနာ့ရိပ်သာကြီး၏ ဩဝါဒါစရိယဆရာတော်ကြီးလည်းဖြစ်၊ အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ်ရဲ့ ပါမောက္ခချုပ်ဆရာတော်ကြီးလည်းဖြစ်တော်မူသော၊ ကာလီဖိုးနီးယားပြည်နယ်၊ ဟာ့ဗ်မွန်းဗေးမြို့ ဓမ္မာနန္ဒ ကျောင်းတော်ကြီးရဲ့ဦးစီးပဓာန နာယကဆရာတော်ကြီးလည်းဖြစ်တော်မူသော ကျေးဇူးတော်ရှင် ဒေါက်တာဘဒ္ဒန္တသီလာနန္ဒာဘိဝံသကိုယ်တိုင် မေတ္တာနန္ဒကျောင်းဖွင့်ပွဲသို့ ကြွရောက် တော်ပြီး သိမ်သမုတ်ခြင်းကိစ္စကို ဦးစီးဆောင်ရွက်ပေးခဲ့သည်။ ကျောင်းဖွင့်ပွဲအကြိုအနေဖြင့် (၅)ရက်တရားစခန်းကိုလည်း ဦးစီးဖွင့်လှစ်၍ ဂိပဿနာ ကျင့်စဉ်နှင့် ဂိပဿနာကျင့်စဉ်ဆိုင်ရာ တရားတော်များကို ယောဂီ ဒကာ၊ ဒကာမတို့အား ဟောကြားပြသပေးခဲ့သည်။ ဤအကြောင်းသည်လည်း မေတ္တာနန္ဒကျောင်းကို လူသိများခြင်း၏ အကြောင်းတစ်ကြောင်း ဖြစ်ပေလိမ့်မည်။

(၃) ထိုအချိန်အခါက (၁၉၉၉-ခုနှစ်၊ အောက်တိုဘာလ အချိန်အခါက) အမေရိကန်နိုင်ငံ၌ မြန်မာဘုန်းတော်ကြီးကျောင်းများ ပေါပေါများများ မရှိလှသေး၍ ကျောင်းတစ်ကျောင်း ပေါ်ပေါက်လာသည်ကို ချီးမြောက်တော်မူလိုကြသော ဆရာတော်များ၊ သံဃာတော်များနှင့် ဒကာ၊ ဒကာမများသည် မေတ္တာနန္ဒဂိဟာရ တရားရိပ်သာ ဖြစ်ပေါ်လာခြင်းကို ကြိုဆိုခဲ့ကြသည်။ ဤသည်မှာလည်း အကြောင်းတစ်ကြောင်းဖြစ်ကောင်းဖြစ်ပေလိမ့်မည်။ ဤသို့သောအကြောင်းများကြောင့် မေတ္တာနန္ဒကျောင်း၏ ဂုဏ်သတင်းသည် ဗေးဧရိယာအတွင်း၌ ပျံ့နှံ့ခဲ့ခြင်းဖြစ်သည်ဟု ပြောလိုပါသည်။

ထိုမျှမကသေးပါ။ ဤကျောင်းတော်ကြီး အစဉ်ခိုင်မြဲလျက် ကြီးပွားတိုးတက်နိုင်စေရန် ကောင်းမြတ်သော စိတ်စေတနာများဖြင့် မေတ္တာနန္ဒကျောင်း၏ အလုပ်အမှုဆောင် ကော်မတီအဖွဲ့ဝင်များ (EC) အဖွဲ့ဝင်များဖြစ်ခဲ့ကြသော ဦးခင်မောင်ကျော်၊ ဒေါက်တာ ဒေါ်ခင်ခင်မြင့်၊ ဒေါက်တာ ဦးစိုးမြင့်ဝင်း (ကွယ်လွန်)၊ ဦးကြည်လွင်၊ ဦးကြည်တိုး၊ ဦးကြည်ခင်၊ ဦးမျိုးမင်း၊ ဒေါ်နီနီ၊ ဦးခင်မောင်အေး၊ ဒေါ်ကြူကြူဝင်း၊ ဒေါ်မာဂရက်လင်း၊ ကိုထိုက်စံ၊ ကိုမျိုးလွင်စသော အမှုဆောင်အဖွဲ့ဝင်များနှင့် နာမည်ဖော်ပြရန် ကျန်ရှိနေသေးသော အဖွဲ့ဝင်များ၏ ပံ့ပိုးကူညီပေးမှုများကလည်း မေတ္တာနန္ဒကျောင်းတိုးတက်လာနိုင်စေရန် အင်အားတွေဖြစ်စေခဲ့သည်။

နောက်ပြီး - ရဟန်းသံဃာတော်များအား ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး၊ ပစ္စည်းလေးပါးတို့ဖြင့် မငြိုမငြင်၊ မပင်မပမ်း၊ ချမ်းချမ်းသာသာ ဖြစ်နိုင်စေရန် မေတ္တာရောင်ခြည် ဂတ်အသင်းသူ၊ အသင်းသားများ၊ ရတနာ့ဂုဏ်ရည်၊ မာဃလုလင်၊ နွေဦးဒိုးပတ်စသော လူငယ်၊ လူရွယ်၊ မောင်မယ်များ၊ ဒေလီးစီတီးမြို့၌တည်ရှိသော ထေရဝါဒဓမ္မအသင်းသူ၊ အသင်းသားများ၊ ဓမ္မယာဉ်တော်အသင်းသူ၊ အသင်းသားများနှင့် ဖရီးမောင့်မြို့နှင့် ဘေးဧရိယာတွင်းရှိ ဒါယကာ၊ ဒါယိကာမများ၊ အမေရိကန်နိုင်ငံတွင်းရှိ ဒကာ၊ ဒကာမများတို့၏ ဖြူစင်သော မေတ္တာ၊ ကြည်လင်သောသဒ္ဓါ၊ ထက်သန်သော စေတနာ၊ ခွန်အားပါသောလုံ့လဂီရိယတို့ဖြင့် စောင့်ရှောက်ပံ့ပိုးပေးခဲ့ကြခြင်းသည်လည်း မေတ္တာနန္ဒကျောင်းတော်ကို တိုးတက်စေဖို့ အကြောင်းတစ်ခုဖြစ်စေခဲ့သည်ဟု ယုံကြည်ထားမိပါသည်။

(အပိုင်း ၂)

ပြောင်းရွှေ့ခါနီး မေတ္တာနန္ဒပုံရိပ်သွင်




ဘဝတစ်ခု၏ အချိုးအကွေ့တို့သည် မြန်ဆန်လွန်းလှသည်။ ဒီနေ့ USA မှာ ရှိနေသော်လည်း မနက်ဖြန်ခါမှာ မြန်မာပြည်မှာ ပြန်ရောက်ကောင်း ပြန်ရောက်နေမည်။ ဒီနေ့ လူ့ဘုံမှာ မြင်တွေ့နေရသော်လည်း မနက်ဖြန်ခါမှာ နတ်ဘုံ (သို့မဟုတ်) အခြားဘုံများသို့ ရောက်ကောင်းရောက်နေနိုင်သည်။ အဘယ့်ကြောင့်ဆိုသော် သံသရာဆိုတဲ့ ဖြစ်စဉ်ထဲမှာ ရုပ်နာမ်တို့ရဲ့ ဖြစ်ပျက်အစဉ်တို့သည် နေထက်လည်းမြန်၊ လထက်လည်းပြေး၊ လေသည်ပင် နေးကွေးနေသလိုဖြစ်နေပြီး မြန်ဆန်လွန်းသော ရုပ်နာမ်သဘာဝတို့ကြောင့် မနက်ဖြစ်အတွက် မရေရာသောအနေအထားမျိုးနှင့် နေကြရသည့် လူ့ဘဝ။ "**လူ့ဘဝဟူသည် တစ်ခဏသာကြာသည့် ရေပွက်ပမာတည်း**"တဲ့။ နေ့မြင် ညပျောက်၊ ညမြင် နေ့ပျောက်။

ရုပ်နာမ်တို့၏ သဘာဂဖြစ်စဉ်တွေကို ဉာဏ်ဖြင့် မသိနိုင်ကြသေး၍ ပုထုဇဉ်တို့သည် တစ်ခါ တစ်ရံမှာ မလျှော့နိုင်သော အတ္တတွေ၊ မထားသင့်သော မာန်မာနတွေကြောင့် မာနက ဒီရေအလား၊ အတ္တက မုန်းတိုင်းအသွင်ဖြင့် ပြုမူနေတတ်ကြတာကို တွေ့မြင်နေကြရ၍ လူ့လောကဆိုတဲ့ သံသရာ ကြီးက ကြောက်စရာကောင်းလှပါလားလို့ ရံခါရံခါတော့လည်း သံဝေဂတရားများ ပွားများမိခဲ့သည်။

တစ်ခါတစ်ရံမှာ လောကထဲမှာနေပြီး ထစ်ကနဲဆို သံဝေဂတရားချည်း ဖြစ်နေသူတို့အတွက် သတိပြုစရာ အချက်တစ်ခုမှာ - အစုအဖွဲ့နှင့်နေသူတိုင်းသည် ဖြစ်ချင်တာ မဖြစ်တိုင်း သံဝေဂဖြစ်ရ သည်ဟု လွဲမှားသော အမိပ္ပါယ်မျိုးကို မယူဆစေချင်ပါ။

အဘယ့်ကြောင့်ဆိုသော် **"အစုရှိက အမှုရှိရိုးသာ ဓမ္မတာတည်း"** ဟူသော လောကနိယာမ ဖြစ်စဉ်ထဲ၌ နေကြရသော ကျွန်ုပ်တို့သည် တစ်ခါတစ်ရံမှာ ဘယ်အရာမျိုးကိုမဆို တုန့်ပြန်ပြောဆိုခြင်း မပြုဘဲ ဆိတ်ဆိတ်နေပြီး သည်းခံလိုက်ခြင်းသည် ကောင်းသည်ဟု ဆိုကောင်းဆိုနိုင်ပါသည်။

သို့သော် အဆိုးများပြီး၊ အကောင်းနည်းသော ဤလောကကြီးထဲ၌ သက်ဆိုင်သူအား ဖြစ်ပေါ် နေသော အမှုကိစ္စကို အကျိုးသင့်၊ အကြောင်းသင့် စိတ်အေးအေးထားလျှက် ပြန်လည်၍ ရှင်းပြနိုင် ခြင်းသည် ပို၍ ကောင်းသည်ဟု လောကအမြင်က ရှိနေပြန်သည်။ အကယ်၍များ မလွဲမရှောင်သာ၍ ပတ်ဗလစ် (Public) ပရိသတ်အား ထိုအမှုကိစ္စကို အကျိုးသင့်၊ အကြောင်းသင့် ပြန်လည် ရှင်းပြရ သောအခါမျိုးတွေ၌ အကျိုးလိုလားသော မေတ္တာစိတ်ဖြင့် ဘက်လိုက်မှုမပြုဘဲ၊ မိမိဘက်က အသားစီး ရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ အီမိုးရှင်း (emotion) မပါ၊ မာန်မာနမပါဘဲ စိတ်အေးအေးထားပြီး ပြန်လည်ရှင်းပြနိုင်ခြင်းသည် အကောင်းဆုံးဖြေရှင်းနည်း၊ (သို့မဟုတ်) အကယ်ဒမစ် ဆန်သော ဖြေရှင်းနည်း (Academic solution) ဟု လူအများက ယုံကြည်ထားကြသည်။ ထို့ကြောင့် ပြဿနာနှင့်ရင်ဆိုင်ရာ၌ သင်သည် ဘယ်လိုနည်းကို ကျင့်သုံးမည်နည်း။

(အပိုင်း ၃)

## မေတ္တာနန္ဒကျောင်း၏ မူလပုံရိပ်သွင်




အတိတ်အခါများဆီက မေတ္တာနန္ဒဂိဟာရ တရားရိပ်သာဖြစ်လာမည့် ပျက်စီးယိုယွင်းနေသော အိမ်အိုကြီးတစ်လုံးနှင့် အိုမင်းဟောင်းနွမ်းနေပြီဖြစ်သော တိုလီမုတ်စ ပစ္စည်းပစ္စယတွေနှင့် ရှုပ်ထွေးပွေ လီနေသော အိမ်ခြံဝင်းကြီးတစ်ခုကို တွေ့မြင်ကြရမှာဖြစ်သည်။ သို့သော် ဟောင်းနွမ်းနေပြီဖြစ်သော

အိမ်အိုကြီးကို မေတ္တာနန္ဒဂိဟာရ အမည်ပြောင်း၍ ရိပ်သာကျောင်းအဖြစ် အသုံးပြုနိုင်ခဲ့သည့်နေ့မှစ၍ မေတ္တာနန္ဒဂိဟာရသည် သမိုင်းသစ်တစ်ခုကို အသွင်းပြောင်းလဲစေနိုင်ခဲ့သည်။ အဲဒီအချိန်မှစ၍ မေတ္တာနန္ဒဂိဟာရတရားရိပ်သာဟူ၍လည်းကောင်း၊ ထန်းနှစ်ပင်ကျောင်းဟူ၍လည်းကောင်း၊ ဘေးဇရိယာ၌ လူသိများလာခဲ့သည်။

ဤနေရာ၌ စကားအလျဉ်းသင့်၍ မေတ္တာနန္ဒကျောင်းနှင့်စပ်ပြီး အတိတ်၊ ပစ္စုပ္ပန်အခြေအနေများကို အကျဉ်းချုပ်အားဖြင့် ပြန်လည်သုံးသပ်ပြရမည်ဆိုလျှင် မေတ္တာနန္ဒကျောင်း၏အတိတ်သမိုင်းသည် အကောင်းချည်း မဟုတ်ခဲ့သော်လည်း အဆိုးကြီးချည်းလည်းမဖြစ်ခဲ့ပါ။ ထိုအချိန် အခါများဆီက မေတ္တာနန္ဒဂိဟာရဓမ္မရိပ်သာမှာ နေထိုင်ကြသော သံဃာတော်(၃)ပါးသည် သူ့စည်း၊ ကိုယ့်စည်းထားပြီး တစ်ပါးနှင့်တစ်ပါး ချစ်ချစ်ခင်ခင် လေးလေးစားစား အနေအထားမျိုးနှင့် နေခဲ့ကြပြီး ကျရာတာဝန်များကို ဝမ်းမြောက်ဝမ်းသာ ဆောင်ရွက်ခဲ့ကြ၍ အောင်မြင်မှုများလည်း ရသင့်သလောက်ရနိုင်ခဲ့သည်ကို ဆိုရပေမည်။

အကျိုးဆက်အနေနှင့် ဤမေတ္တာနန္ဒကျောင်းမှ သံဃာတော်တစ်ပါးသည် အမေရိကန်နိုင်ငံရဲ့ ပညာရေးဆိုင်ရာ အဆင့်မြင့်ဆုံး ဘွဲ့တစ်မျိုးဖြစ်တဲ့ ဒေါက်တာဘွဲ့ (Ph D ဘွဲ့) (ဗီလိုဆိုဗီဘာသာရပ်အထူးပြုဘွဲ့) ကို (၂၀၀၃-ခုနှစ်တွင်) အရှင်ဓမ္မပိယကလည်းကောင်း၊ BA-ဘွဲ့ (ဆိုက်ကိုလိုဂျီ ဘာသာရပ် အထူးပြုဘွဲ့)ကို (၂၀၁၀-ခုနှစ်တွင်) အရှင်ဉာဏိကာဘိဂံသကလည်းကောင်း၊ မြန်မာနိုင်ငံတွင် သာသနာပြုဆရာတော်များအား နိုင်ငံတော်မှ ဆက်ကပ်လှူဒါန်းလေ့ရှိသော ဂုဏ်ထူးဆောင်ဘွဲ့ တစ်မျိုးဖြစ်တဲ့ **အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇဘွဲ့** ကို (၂၀၁၂-ခုနှစ်တွင်) ဆရာတော်ဒေါက်တာ အရှင်ဓမ္မပိယကလည်းကောင်း၊ နိုင်ငံတော်အတွက် လူသားအကျိုးပြု လုပ်ငန်းများနှင့်စပ်ယှဉ်သော ပညာရေး၊ သာသနာရေး၊ ပရဟိတအရေး၊ နာဂစ်လေဘေး ကယ်ဆယ်ရေးစသော အရေးကိစ္စများကို စွမ်းစွမ်းတမံ လူမှုအကျိုးပြု လုပ်ငန်းများကို ဆောင်ရွက်တော်မူကြသော ဆရာတော်၊ သံဃာတော်များကို နိုင်ငံတော်သမ္မတမှ ဆက်ကပ်လှူဒါန်းသော **နိုင်ငံ့စွမ်းဆောင်ရည်ဆု** ကို (၂၀၁၄-ခုနှစ်တွင်) ဆရာတော် ဒေါက်တာအရှင်ဓမ္မပိယကလည်းကောင်း ရရှိခဲ့သည်။

သို့ဖြစ်ပါ၍ မေတ္တာနန္ဒဂိဟာရကျောင်း၏ အတိတ်သမိုင်း ကြောင်းသည် အကောင်းကြီးမဟုတ်သော်လည်း အဆိုးကြီးမဟုတ်ခဲ့၍ မေတ္တာနန္ဒကျောင်း၏ အကျိုးတရားနှင့် အကျိုးရလာဘ်တို့ကို ပြန်လည်သုံးသပ်ကြည့်မည်ဆိုလျှင် ကျေနပ်စရာလည်းကောင်းသလို၊ ကြည်နူးစရာလည်းကောင်းသည်ဟု ဆိုရပေမည်။



ထိုအချိန်အခါကလည်း မေတ္တာနန္ဒကျောင်းတော်ကြီး စည်စည်ပင်ပင် ရှိနေခဲ့ခြင်းမှာ သာရေး၊ နာရေးများအတွက် အလှူဒါနပြုလုပ်လိုလျှင် သွားရေးလာရေး လွယ်ကူခြင်း၊ အဆင်ပြေခြင်း၊ တရားဘာဝနာများ အားထုတ်လိုသူတို့အတွက်လည်း တရားအားထုတ်ရန် နေရာထိုင်ခင်း အဆင်ပြေခြင်းစသော အခြေအနေကောင်းများသည် ကျောင်းတစ်ကျောင်း၌ လူဝင်လူထွက်များခြင်း၏ အကြောင်းအထောက်အပံ့ ဖြစ်ခဲ့ပေလိမ့်မည်။

သို့သော် နောက်ပိုင်းရောက်လာသောအခါ မေတ္တာနန္ဒ၏အခြေအနေသည် ခြောက်ခြောက် သွေ့သွေ့ကြီး ဖြစ်သွားခဲ့သည်ဟု ပြောလာသူများလည်း ရှိလာခဲ့သည်။ အကြောင်းက မည်သို့ရှိမည် နည်း။

အကြောင်းကို လေ့လာကြည့်သောအခါ - မေတ္တာနန္ဒကျောင်းသို့ လူဝင်၊ လူထွက် နည်းလာ သည်မှာ သေချာလှသည်။ ထိုသို့ဖြစ်ရခြင်းသည် အကြောင်းများစွာ ရှိပေလိမ့်မည်။ ကောက်ချက် ချကြည့်သော် ပြဿနာသေးသေးလေးတွေက စတင်ခဲ့သည်ဟု ဆိုရပေမည်။

သူများအိမ်ရှေ့၌ ကားများကို စည်းကမ်းမရှိ မကြာခဏဆိုသလို ရပ်ထားခဲ့ကြ၍ ပတ်ဝန်းကျင် နေဘား (neighbor) ကွန်းပလိန်းများလာခြင်း၊ ကျောင်းကွင်းတွင်း၌ပြုလုပ်သော အလှူပွဲများ၊ ကလေးသင်တန်းများ၌ ဆူညံမှုများ များပြားလာခြင်း၊ ဘာသာရေး၊ နိုင်ငံရေး၊ လူမှုရေးကိစ္စများကို ဆောင်ရွက်ကြရာတွင် သာသနာရေးနှင့် လူမှုရေးရေးများ ရောရောနှောနှော ဖြစ်လာခြင်း၊ မူလကျောင်းနေ သံဃာတော်သုံးပါးအနက်၊ ပထမဆရာတော်က မြန်မာပြည်၌ အနေများလာခြင်း၊ ဒုတိယဆရာတော်က အခြားနေရာ၊ အခြားနိုင်ငံများသို့ မကြာခဏဆိုသလို သွားရောက်၍ တရား စခမ်းများကိုဖွင့်လှစ်၍ ကမ္မဋ္ဌာန်းတရားများကို ဟောကြားပြသနေခြင်း၊ တတိယ ဆရာတော်ကလည်း သူ့ကျောင်းနှင့်သူဖြစ်နေပြီဖြစ်၍ ထိုကျောင်းသစ်သို့ ပြောင်းရွှေ့ သီတင်းသုံးနေထိုင်နေခြင်းစသော အကြောင်းများကြောင့် မေတ္တာနန္ဒကျောင်းသည် ခြောက်ခြောက်သွေ့သွေ့ကြီး ဖြစ်သွားခဲ့ရသည်ဟု တွေးထင်မိပါသည်။

(အပိုင်း ၄)

## မေတ္တာနန္ဒကျောင်း၏ ပစ္စုပ္ပန်ပုံရိပ်သွင်

မေတ္တာနန္ဒအသိုင်းအဝိုင်းနှင့် နီးနီးစပ်စပ်ရှိသူများကတော့ အကြီးဆရာတော်ဖြစ်တဲ့ ကျောင်းထိုင်ဆရာတော် ဒေါက်တာအရှင်ဓမ္မပိယသည် မြန်မာပြည်မှာ ဘာတွေလုပ်နေသည်ဆိုတာကို သိထားကြ၍ အမေရိကမှာ အနေနဲပါးလာခြင်းကို နားလည်ပေးနိုင်ကြသည်။

အငယ်ဆရာတော်ဖြစ်တဲ့ ကျောင်းထိုင်ဆရာတော် အရှင်ယောသိတာဘိဂံသသည်လည်း တရားဘာဝနာလုပ်ငန်းများ၌ စိတ်ဝင်စားမှု ပိုများနေ၍ အရပ်ဒေသအသီးသီးမှာရှိသော တရားစခန်းများသို့ ပင့်သူရှိလာက လှည့်လည်ကြွလာနေရ၍ ဤမေတ္တာနန္ဒကျောင်း၌ အနေနည်းပါးလာသည်ကိုလည်း နားလည်ပေးနိုင်ကြသည်။ သို့အတွက် ယောနိသောမနသိကာရထား၍ သာသနာရေးကိစ္စများကို ဆောင်ရွက်ကြရင်း - ဘဝဆိုတာ တစ်ခါတစ်လေမှာ ပံ့ပိုးဖေးမမည့်သူ ရှိမှသာလျှင် အမောပြေနိုင်တယ်ဆိုတဲ့ သီအိုရီလေးကို လက်ခံရမလို ဖြစ်လာမိသည်။

သို့သော် **"မပြောမပြီး မတီးမမြည်"** ဆိုတဲ့သဘောမျိုးကလည်း ရှိနေပြန်၍ ကျောင်းထိုင်ဆရာတော် အကြီးဖြစ်တဲ့ ဒေါက်တာအရှင်ဓမ္မပိယသည် မြန်မာပြည်မှာ ဘာတွေ များလုပ်နေ၍ မေတ္တာနန္ဒကျောင်းနှင့် ဒီလောက်ကြီးများတောင် ဝေးနေရသနည်းဟု မေးသူများကလည်း ရှိလာပြန်သည်။

မေးထိုက်ပါသည်။ ဒီလိုမေးသူရှိမှလည်း ဒီမေးသူရဲ့ မေးခွန်းကို အမှီပြုပြီး ကျန်သူများလည်း သိခွင့်ရမှာဖြစ်လို့ မေးသူကိုပင် ပြန်၍ ကျေးဇူးတင်နေမိပါ၏။



မေတ္တာနန္ဒဆရာတော် ဒေါက်တာအရှင်ဓမ္မပိယသည် မြန်မာပြည်၌ သူဆောင်ရွက်နေသော တာဝန်ဝတ္တရားများမှာ - ဆရာတော်သည် မြန်မာပြည်တွင်ရှိသော သာသနာတော်ဆိုင်ရာ တက္ကသိုလ်ကြီး(၅)ခုတွင် စွမ်းနိုင်သည့်ဖက်မှ အောက်ဖော်ပြပါ တာဝန်များကို ဆောင်ရွက်လျှက် ရှိနေပါသည်။

(၁)အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ်တွင် ပါမောက္ခရာထူးနှင့် ပရိယတ္တိမဟာဌာနမှူးတာဝန် (အချိန်ပြည့်)၊ (၂) မေတ္တာနန္ဒသာသနာ့ ကောလိပ်ကျောင်းတွင် ကျောင်းအုပ်ရာထူးနှင့် ကျောင်းအုပ်တာဝန် (အချိန်ပြည့်)၊ (၃)(၄)(ရန်ကုန်) သီတဂူ ဗုဒ္ဓတက္ကသိုလ်နှင့် (စစ်ကိုင်း) သီတဂူ ဗုဒ္ဓတက္ကသိုလ်တို့တွင် ဂုဏ်ထူးဆောင်ပါမောက္ခနှင့်

ပညာရေးဆိုင်ရာ အကြံပေးတာဝန် (အချိန်ပိုင်း)၊ (၅) (ကျွန်းလှ) သီတဂူဗုဒ္ဓတက္ကသိုလ်တွင် ပါမောက္ခချုပ်ရာထူးနှင့် ပညာရေးဆိုင်ရာ အကြံပြုတာဝန် (အချိန်ပြည့်တာဝန်) တို့ကို တာဝန်ယူ ဆောင်ရွက်လျှက် ရှိနေပါသည်။

ဆရာတော်သည် တက္ကသိုလ်ဆိုင်ရာတာဝန်များအပြင် အခြားခြားသော တာဝန်များကိုလည်း ပူးတွဲဆောင်ရွက်လျက်ရှိသည်။ ထိုတာဝန်များမှာ - ရန်ကုန်မြို့၌ရှိသော ငါးကျမ်းပြန်ကျောင်းတိုက်သည် ဆရာတော်၏ သာသနာပြုရာ ဗဟိုဌာနအဖြစ် အခြေချ သီတင်းသုံးနေထိုင်သော ပရိယတ္တိစာသင်တိုက် တစ်တိုက်ဖြစ်သည်။ ဤကျောင်းတိုက်၌ ရဟန်း သာမဏေ သိက္ခာရှင် အပါး(၁၃၀) ဂါဆိုခဲ့ကြပြီး နိကြောသောမဏေစီမံကိန်းကို ဖေါ်ဆောင်လျှက် ဗုဒ္ဓဓမ္မဆိုင်ရာ ပရိယတ္တိစာပေ (လောကုတ္တရာ စာပေ)နှင့် အတန်းပညာရပ်ဆိုင်ရာ လောကီစာပေတို့ကို ပူးတွဲ (နံနက် ပရိယတ္တိစာပေ၊ နေ့နှင့် ညနေ လောကီစာပေ) သင်ကြားပေးနေသော ကျောင်းတိုက်တစ်တိုက်ဖြစ်သည်။ လောကုတ္တရာသက်သက် သင်ယူသော စာသင်သားများအတွက် အချိန်ပြည့် ပရိယတ္တိစာပေတို့ကို သင်ယူစေပါသည်။

၂၀၁၆-၂၀၁၇-ခုနှစ် ပညာသင်နှစ်တွင် လောကုတ္တရာစာပေဆိုင်ရာ သာသနာ့ဇောဓမ္မာစရိယ ဘွဲ့ရ(၁)ပါးနှင့် လောကီစာပေဆိုင်ရာ လော(ဥပဒေ)ဘွဲ့ရ (၁)ပါးတို့ကို ဤကျောင်းတိုက်မှ စတင်ပေါ်ထွက်လာသည်။



၂၀၁၆-၂၀၁၇-ခုနှစ် ပညာသင်နှစ်တွင် ဤကျောင်းတိုက်မှ အောင်မြင်ကြသော စာမေးပွဲများမှာ လောကုတ္တရာစာပေဆိုင်ရာတွင် ဓမ္မာစရိယကျမ်းပြီး (၁)ပါး၊ ဓမ္မာစရိယကျမ်းစွဲ (၁)ပါး၊ အကြီးတန်းအောင် (၅)ပါး၊ အလတ်တန်းအောင် (၃)ပါး၊ အငယ်တန်းအောင် (၂)ပါး၊ မူလတန်းအောင် (၃)ပါးဖြစ်ပြီး၊ လောကီစာပေ၌ ဥပဒေဘွဲ့ရ (၁)ပါး၊ ဥပဒေတတိယနှစ်အောင် (၁)ပါး၊ အရှေ့တိုင်းနှင့် အင်္ဂလိပ်စာမေဂျာ ဒုတိယနှစ်နှင့် ပထမနှစ်အောင် (၆)ပါး၊ မေတ္တာနန္ဒကောလိပ်ကျောင်းမှ ဒုတိယနှစ်အောင် (၂၁) ပါးနှင့် ပထမနှစ်အောင် (၁၈)ပါး၊ ရှစ်တန်းအောင် (၂၃)ပါး၊ ငါးတန်းအောင် (၄)ပါး၊ ပရိယတ္တိ သာသနဟိတ ပါဠိပါဒက စာမေးပွဲ၌ (၁၂)ပါး၊ စုစုပေါင်း (၁၀၂)ပါး ရှိပါသည်။

ဤကျောင်းတိုက်ကို ဒေါက်တာအရှင်ဓမ္မပိယ ဦးစီးဆောင်ရွက်ခဲ့သည့်နှစ်မှစ၍ ဤကျောင်းတိုက်တာမှ ဓမ္မာစရိယဘွဲ့ရ (၄)ပါး၊ PhDဘွဲ့ရ (၄)ပါး၊ MA ဘွဲ့ရ (၈)ပါး၊ အကြီးတန်းအောင်မြင်ပြီးသူအပါး (၁၈)ပါး၊ ရှိနေပြီဖြစ်သလို၊ ဆယ်တန်းအောင်မြင်ပြီးသူ (မေတ္တာနန္ဒအသိုင်းအဝိုင်းနှင့်စပ်သမျှကျောင်းသား၊ ကျောင်းသူများအပါအဝင်) စုစုပေါင်း(၁၀၀)ကျော်အထိ ရှိနေပြီဖြစ်သည်။ ဆရာတော်သည် နောင်အနာဂတ်မှာလည်း လောကုတ္တရာဘွဲ့ရ၊ လောကီဘွဲ့ရများ သံဃာတော်များ၊ ကျောင်းသား၊ ကျောင်းသူများ ဆက်လက်ပေါ် ထွန်းလာနိုင်စေရန် ကြိုးစားဆောင်ရွက်လျှက်ရှိပါသည်။

(အပိုင်း ၅)

### မေတ္တာနန္ဒကျောင်းဆရာတော်နှင့် မြန်မာနိုင်ငံ၌ ထင်ဟပ်နေသော ပစ္စုပ္ပန်ပုံရိပ်သွင်များ



ဆရာတော်သည် ပရဟိတလုပ်ငန်းများနှင့်ဆက်စပ်သော တာဝန်များကိုလည်း တာဝန်ယူထားဆဲဖြစ်သည်။ "စာပေမြင့်မှ လူမျိုးတင့်မည်" ဟု ဆိုသော သီအိုရီကို အပြည့်အဝ လက်ခံထားသော ဆရာတော်ပီပီ ဘုန်းတော်ကြီးသင် စာသင်ကျောင်း (၂)ကျောင်းကို မြန်မာပြည်၌ ဖွင့်လှစ်ပေးထားသည်။ တစ်ကျောင်းက မင်္ဂလာဒုံမြို့နယ်၊ နွယ်ခွေအုပ်စု၊ ရွာသစ်ကျေးရွာတွင် တည်ရှိသည်။ မေတ္တာနန္ဒဘုန်းတော်ကြီးသင် ပညာရေးကျောင်းဆိုသောအမည်နှင့် ဖွင့်လှစ်ထားပြီး၊ ထိုကျောင်း၌ မိဘမဲ့များနှင့်ဆင်းရဲသော ကလေးသူငယ်များကို လက်ခံထားရှိသည်။ ထိုကျောင်းကို ၂၀၁၀-ခုနှစ်၊ ဖွန်လတွင် စတင်ဖွင့်လှစ်ခဲ့သည်။ [ထိုကျောင်း၏လိပ်စာမှာ - မေတ္တာနန္ဒဘုန်းတော်ကြီးသင်စာသင်ကျောင်း၊ ရွာသစ်ကျေးရွာ၊ နွယ်ခွေအုပ်စု၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ (ဖုံး - 09262184248)]

ထိုကျောင်း၌ ရှင်သာမဏေ၊ သိက္ခာရှင်၊ ကျောင်းသား၊ ကျောင်းသူ (၂၀၀)ကျော်တို့၏ စားဝတ်နေရေးနှင့် ပညာရေးတို့ကိုပါ တာဝန်ယူထားရပြီး၊ ထိုကျောင်း၌ လောကီစာပေကို သင်ယူနေကြသော အတွင်း၊ အပြင် ကျောင်းသား၊ ကျောင်းသူပေါင်းမှာ (၆၂၀)ကျော်ထိ ရှိနေသည်။

နောက်တစ်ကျောင်းမှာ ရှမ်းပြည်နယ် (အရှေ့ပိုင်း)၊ ကျိုင်းတုံမြို့ ဇေတဝန်ပရိယတ္တိ ကမ္မဋ္ဌာန်းကျောင်းတွင်း၌ ဖွင့်လှစ်ထားသော ဇေတဝန်ဘုန်းတော်ကြီးသင် စာသင်ကျောင်းဖြစ်သည်။ ထိုကျောင်းကို ၂၀၁၂-ခုနှစ်တွင် လွှဲပြောင်းတာဝန်ယူခဲ့ပြီး၊ ထိုနှစ်မှစ၍ တိုင်းရင်းသားများဖြစ်ကြသော

ကိုရင်ငယ် သီလရှင်ငယ် (၉၀) ကျော်နှင့် တိုင်းရင်းသူ၊ တိုင်းရင်းသားလေးများဖြစ်ကြသော ကျောင်းသား၊ ကျောင်းသူ (၃၀)ကျော်တို့၏ ပညာရေးနှင့် စားဝတ်နေရေးတို့ကိုပါ တာဝန်ယူထားပြီး အလယ်တန်း ပညာအထိ လောကီစာပေကို သင်ကြားပေးလျှက်ရှိသည်။

ထိုကျောင်းတွင် အတွင်း၊ အပြင် ကျောင်းသား၊ ကျောင်းသူ ပေါင်း (၃၀၀) ကျော်တို့အား လောကီစာပေဆိုင်ရာ အတန်းစာပေများကို သင်ကြားပေးလျှက်ရှိသည်။ [ထိုကျောင်း၏လိပ်စာမှာ - ဇေတဝန်ပရိယတ္တိ ဘုန်းတော်ကြီးသင် ပညာရေးကျောင်း၊ ကျိုင်းဖေါင်းရွာ၊ ကျိုင်းဖေါင်းအုပ်စု၊ ကျိုင်းတုံမြို့ (ရှမ်းရှေ့) ရှမ်းပြည်နယ်။ (ဖုံး - 09250900761)]



ဤမျှမကသေးပါ။ ဆရာတော်ဒေါက်တာဓမ္မပိယသည် ပရဟိတလုပ်ငန်းများနှင့်ဆက်စပ်လျှက် ရှိသော **ဓမ္မစကူးလ်**ဆိုင်ရာ လုပ်ငန်းများတွင်လည်း ဦးဆောင်နာယက(ဗဟို) ဆရာတော်တစ်ပါး အဖြစ်ဖြင့် ပါဝင်ကူညီလျှက်ရှိသည်။ ရှိုင်းဟုပ်ကုမ္ပဏီမိသားစုက ကြီးမှူးကျင်းပပြုလုပ်ပေးသော ပိဋကတ် (၃)ပုံ မြန်မာပြန်စာမေးပွဲတွင်လည်း နာယကဆရာတော်တစ်ပါးအဖြစ်ဖြင့် ပါဝင်ကူညီ လျှက်ရှိသည်။ ဤသို့ များပြားသော သာသနာတော်ဆိုင်ရာ တာဝန်များကို ပူးပေါင်းဆောင်ရွက်လျှက် ရှိသည်။

ထို့အပြင် အချိန်အခါရသည့်အခါတိုင်း စာပေများကို ရေးသားခြင်း၊ ထုတ်ဝေခြင်း၊ ပြည်တွင်းပြည်ပ တရားစခမ်းများသို့ ကြွရောက်၍ ဂိပဿနာတရားများကို ပြသပေးခြင်း၊ အပြည်ပြည်ဆိုင်ရာ၊ ပြည်တွင်း၊ ပြည်ပနှင့်ဆိုင်သော အင်တာနေရှင်နယ် ဘာသာရေး ဆွေးနွေးပွဲများ၊ နိုင်ငံခြားသတင်းမီဒီယာဆိုင်ရာ ဆွေးနွေးပွဲများ၊ အင်တာဗျူးများ၊ စာတမ်းဖတ် ပွဲများ၊ ငြိမ်းချမ်းရေးဆိုင်ရာ ညီလာခံများ၊ ဘာသာရေးဆိုင်ရာ ထိပ်သီးညီလာခံများတွင်လည်း ပါဝင်တက်ရောက်၍ ဆောင်ရွက်ပေးလျှက်ရှိသည်။ ဤကဲ့သို့ များပြားလှသော တာဝန်များကို ဆောင်ရွက်နေရ၍ အမေရိကန်နိုင်ငံသို့ မကြာခဏဆိုသလို ပြန်မရောက်လာနိုင်ခြင်းအတွက် နားလည်ပေးနိုင်ကြလိမ့်မည်ဟု ယုံကြည်ထားမိပါသည်။

ဤကဲ့သို့သော သိသင့်သိထိုက်သည်များကို ရေးသားတင်ပြနေရခြင်းသည် ကြွားဝါလိုသည့် ဆန္ဒမပါဘဲ ဒကာ၊ ဒကာမများအားလုံးကို **သိကြားစေ သက်သေညွှန်း**လိုသော သဘောမျိုးဖြင့် ဝမ်းသာ ကြည်နူးစေချင်သော ဆန္ဒတစ်ခုတည်းဖြင့်သာ ရေးသားရခြင်းဖြစ်ကြောင်း သိစေအပ်ပါသည်။

(အပိုင်း ၆)

## မေတ္တာနန္ဒကျောင်းကို ဘာ့ကြောင့် ရွှေ့ပြောင်းလိုကြသနည်း

လွန်ခဲ့သော (10/15/2017) တနင်္ဂနွေနေ့က မေတ္တာနန္ဒကျောင်းကထိန်ပွဲနှင့် ကျောင်းပြောင်း နှုတ်ဆက်ပွဲမှာ ဖေးဧရိယာ၌ နေထိုင်သီတင်းသုံးနေတော်မူကြသော ကျောင်း (၉) ကျောင်းမှ သံဃာတော် (၁၇)ပါး ကြွရောက်၍ ချီးမြှောက်တော်မူခဲ့ကြသည်။




ထိုအခမ်းအနား၌ ဓမ္မာနန္ဒကျောင်းဆရာတော်ကြီး ဆရာတော်ဦးဇောတာလင်္ကာရက သီလပေး၍ ဩဝါဒကထာမြွက်ကြားတော်မူခဲ့သည်။ မေတ္တာနန္ဒဂိဟာရ ဓမ္မရိပ်သာကျောင်းဆရာတော် ဒေါက်တာအရှင်ဓမ္မပိယက ကျောင်းနှင့်စပ်သမျှ တရားစကားအနည်းငယ်ကို ပြောခဲ့ပြီး ရေစက်ချပေးခဲ့သည်။

ရုပ်နာမ်ခန္ဓာ အဖြစ်အပျက်တို့၏ ဖြစ်စဉ်ကို သံသရာလို့ ခေါ်ဆိုကြမည်ဆိုလျှင် မေတ္တာနန္ဒ၏ သံသရာဖြစ်စဉ်သည် တစ်ပတ်လည်ခဲ့ပြန်ပြီဟု ဆိုရပေမည်။ မူလကျောင်းနေ သံဃာသုံးပါးသည် ဆန်ဟိုဆေးမြို့ တထာဂတတရားရိပ်သာမှ (ပထမအကြိမ်) ထိုနေရာမှ ဤနေရာသို့ ပြောင်းရွှေ့လာခဲ့ကြသည်။ ယခုတစ်ဖန် (ဒုတိယအကြိမ်) ဤနေရာမှ ထိုနေရာသို့ ပြောင်းရွှေ့ပြန်ရမည်ဖြစ်၍ သြော် ... သံသရာ တစ်ပတ်လည်ပြန်ပါပေါ့လားလို့ တွေးမိရင်း မျက်ရည်များပင် ဝေချင်ချင်ဖြစ်လာခဲ့သည်။

ဖြစ်စဉ်သဘောအရ တကယ်ပြောင်းရတော့မည်ဆိုပြန်တော့လည်း ကထိန်ပွဲသို့ ကြွရောက်တော်မူလာကြကုန်သော သံဃာတော်များနှင့် ဒကာ၊ ဒကာမများသည် ဝမ်းနည်းဝမ်းသာ ဖြစ်ခဲ့ကြသည်။ ကျယ်ကျယ်ပြန့်ပြန့်ရှိသော ကျောင်းမြေနေရာနှင့် သပ်သပ်ရပ်ရပ် ပြုပြင်ထားသော ကျောင်းအဆောက်အဦကို မြင်တွေ့ကြရ၍ ဝမ်းသာလို့မှ မဆုံးသေးခင်မှာပင် ဤနေရာမှ အခြားတစ်နေရာသို့ ပြောင်းကြတော့မည်ဆိုပြန်တော့ ... ။

နှစ်ပေါင်းရာကျော်နေပြီး ရှေးဗိသုကာ ဒီဇိုင်းဖြင့် ဆောက်လုပ်ထားသော ကျောင်းအဆောက် အဦကြီးသည် "**လင်းတလောက်ဆော့ ငှက်တိုင်းလှုပါသည်**" ဆိုသည့်သဘောမျိုးဖြင့် ဂင့်ဂါသော အနေ အထားမျိုးနှင့် ပတ်ဝန်းကျင်ကို စိန်ခေါ်နေတဲ့သဘောမျိုးဖြစ်နေတာကြောင့် ပြုပြင်ထားသော ကျောင်း တော်ကြီးကို ကြည့်ပြီး လွမ်းနေသူတွေကလည်း များမှများ။

ဘဝဆိုတဲ့ သံသရာထဲတွင် ကျင်လည်နေကြရသော ပုဂ္ဂိုလ်သတ္တဝါတိုင်း ဒီလိုပဲ တစ်နေရာမှ တစ်နေရာ၊ တစ်ဘဝမှ တစ်ဘဝသို့ ပြောင်းရွှေ့နေကြရ၍ မောခဲ့ရတဲ့ဘဝတွေကလည်း များလှပြီ မဟုတ်ပါလား။

သတိဝင်၍ သံသရာဆိုတဲ့ ဘဝဇာတ်ရုပ်ကို ပုံဖေါ်ကြည့်ခဲ့မည်ဆိုလျှင် ဘဝဇာတ်ဆရာ အလိုကျ အရှုံးသမားဘဝမျိုးနဲ့ ကခဲ့ကြရတဲ့ ဘဝတွေကလည်း မရေမတွက်နိုင်အောင် များလှပြီလေ။ ဘဝဆိုတာ ဒီလိုပါပဲလို့ စကားအဖြစ် မပြောလိုသော်လည်း အဖြစ်အပျက်ကို တရားအသိနှင့် ဆင်ခြင်ပြီး ဖြေသိမ့်နိုင်ကြဖို့ပါ။ ဒီလိုအခြေအနေတွေကို ဉာဏ်နှင့်သုံးသပ်နိုင်ကြပြီး၊ အနည်းဆုံး သံဝေဂ စိတ်လေးတစ်စိတ် အသိဉာဏ်မှာ လင်းလက်ခဲ့ကြမည်ဆိုလျှင် နိဗ္ဗာန်ခရီးအတွက် မှန်ကန် သော လမ်းကြောင်းဟု ဆိုကားဆိုနိုင်ပေတော့မည်။ သံဝေဂဉာဏ်နှင့် နိဗ္ဗာန်ခရီးကို ဦးတည် နိုင်ကြပါစေ။

(အပိုင်း ၇)

## လျှိုမြောင်တွေအလယ်က မေတ္တာနန္ဒကျောင်းသစ်




မေတ္တာနန္ဒကျောင်းသစ်သို့ ပြောင်းကြရတော့မည်မှာ သေချာသလောက်ရှိနေပြီ။ ထိုကျောင်း မြေ၏ တည်နေရာသည် တော၊ တောင်၊ လျှိုမြောင်တွေကြားမှာ တည်ရှိနေ၍ ဆိတ်ငြိမ်မှု အပြည့်အဝ ရရှိနိုင်သော ရိပ်သာတစ်ခု ဖြစ်လာနိုင်သည်။ ထိုရိပ်သာ၏တည်နေရာ လိပ်စာ (Location) ကား - 35691 Palomares Rd Castro Valley, CA 94552, USA – Ph: (510) 795-0405/ (650) 922-8693/ (650)922-8745 ဖြစ်သည်။ အီးမေးလ်လိပ်စာများမှာ - mettananda.usa@gmail.com, ashindhammapiya@ gmail.com, ughosita@gmail.com, ven.sirivamsa@gmail.com တို့ဖြစ်သည်။

ယခုအခါ တရားဘာဝနာလုပ်ငန်းများကို ပြုလုပ်နိုင်ရန် သင့်တော်လျောက်ပတ်သော နှစ်ဧကခွဲ (၂.၅ ဧက) ခန့်ရှိသော ကျောင်းမြေနေရာကို တွေ့ရှိထားပြီဖြစ်၍ ထိုကျောင်းသစ်သို့ ပြောင်းရွှေ့နေထိုင်ကြတော့မည်ဖြစ်သည်။ ထိုကျောင်းတော်၏အနေအထားသည် စာပေနှင့်လည်းပျော်၊ တရားဘာဝနာနှင့်လည်း မွေ့လျော်လော့ရှိသော ဆရာတော်အငယ် အရှင်ယောသိတာဘိဝံသအတွက် သင့်လျော်လျောက်ပတ်လှ၍ ခရီးသွားခြင်းကိစ္စများ နည်းသွားနိုင်လိမ့်မည်ဟု မျှော်လင့်ရပါသည်။



ဘဝဆိုတဲ့ဖြစ်စဉ်တွေထဲမှာ ထူးခြားတဲ့ လူတစ်ယောက်ရဲ့ဖြစ်စဉ်ကို ဖေါ်ပြချင်တဲ့အခါ ဖြစ်ရပ်နှင့်ဖြစ်စဉ်တို့ကို ပေါင်းစပ်ပြီး ဖေါ်ပြခြင်းကို သမိုင်းဟု ခေါ်ဆိုနိုင်ကြမည်ဆိုလျှင် မေတ္တာနန္ဒဂိုဟာရကျောင်းရဲ့ ဖြစ်ရပ်နှင့်ဖြစ်စဉ်တို့ကို ပေါင်းစပ်ပြီး ဖေါ်ပြထားသော ဤစာတမ်းငယ်သည် မေတ္တာနန္ဒကျောင်း၏ သမိုင်းအကျဉ်းဟု မှတ်ယူနိုင်ပါသည်။

အကျဉ်းချုပ်၍ဆိုရသော် မေတ္တာနန္ဒကျောင်း၏ သမိုင်းဖြစ်စဉ်တို့သည် အားကျစရာ၊ အတုယူစရာတွေနှင့်အတူ စိတ်ဝင်စားဖွယ်ရာတွေ ပါဝင်နေသလို၊ အထင်လွဲခြင်း၊ အမြင်လွဲခြင်း၊ သဘောထားကွဲလွဲခြင်းစသော လူတို့၏သဘော၊ သဘာဝတရားတို့ကြောင့် စိတ်ပျက်စရာတွေ၊ စိတ်လှုပ်ရှားစရာတွေလည်း ပါဝင်နေခဲ့သည်။

သို့သော် ဗုဒ္ဓဘာသာဝင်တို့၏ အမြဲတေဖြစ်သော သည်းခံခြင်း၊ နားလည်ပေးခြင်း၊ အနစ်နာခံခြင်း၊ ခွင့်လွှတ်ခြင်း၊ စွန့်လွှတ်ခြင်းနှင့် သာသနာတော်အတွက်ဆိုလျှင် **"စိတ်ရှည် ဖွဲ့သန်၊ သည်ညည်းခံ၊ ပြုရန်သာသနာ"** ဆိုတဲ့ ဒွါဒသမ ရွှေကျင်သာသနာပိုင် စစ်ကိုင်း ရွှေဟင်္သာ ဆရာတော်ဘုရားကြီး၏ အဆုံးအမတော်အတိုင်း လုပ်သင့်သည့် သာသနာ့ကိစ္စ အဝဂတို့ကို ပတ်ဝန်းကျင်က မည်သို့ပင် ပြောနေပါစေ၊ ဝေဖန်နေပါစေ မဆုတ်မနစ်သောလုံ့လဖြင့် ကြိုးစား၊ သည်းခံ၍ ဆောင်ရွက်နိုင်ကြမည်ဆိုလျှင် အနေအထား တစ်ခုဆီသို့ မလွဲမသွေ ရောက်ရှိနိုင်သည် ဟူသော ယုံကြည်ချက်ဖြင့် ဆောင်ရွက်ခဲ့ရပါသည်။ အများအကျိုးကို အမျှော်အမြင် ကျယ်ကျယ်နှင့် ဆောင်ရွက်ရသော ဤကုသိုလ်ကံစေတနာသည် သာသနာတော်အကျိုးကို ဆောင်ရွက်သူရော၊ ပါဝင်သူများအားလုံးပါ သွားရာနိဗ္ဗာန်ခရီးသည် နီးသည်ထက် နီးနိုင်ကြပါစေဟု ဆန္ဒပြုမိပါ၏။

(အပိုင်း ၈)

## မေတ္တာနန္ဒကျောင်းသစ်သို့ ဘယ်တော့ပြောင်းမည်နည်း။

မေတ္တာနန္ဒကျောင်းသစ်သို့ ဘယ်တော့ပြောင်းမည်နည်း။ မေးသူများက မေးနေကြပြီ။ လောလောဆယ် အခြေကတော့ "**မနက်ဖြန် သို့မဟုတ် ဘယ်သောခါ**" လို့သာ ဖြေရတော့မည် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ပဋိစ္စသမုပ္ပါဒ်တရားတော်၌ အကျိုးတရားတစ်ခုဖြစ်လာဖို့ အကြောင်းတရားများပေါင်းဆုံလာမှ အကျိုးတရားဆိုတာ ဖြစ်ပေါ်လာတတ်သည်ဟု မြတ်ဗုဒ္ဓ ဟောကြားတော်မူခဲ့သည်ကို သတိမူကြလျှက် ပြောနိုင်သောအဖြေတစ်ခုမှာ မကြာခင် ကျောင်းသစ်မှာ တွေ့ကြမည်ဟုသာ ပြောကြားလိုပါ၏။ See you soon ပါ။

ကျောင်းသစ်သို့ မပြောင်းရွှေ့ခင် ကျောင်းဟောင်းဖြစ်သော မေတ္တာနန္ဒကျောင်းတော်ကြီး၏ ကျေးဇူးတရားအချို့ကို ဖော်ပြချင်ပါသေးသည်။ ကျောင်းသစ်သို့ ပြောင်းရွှေ့ရမည်ဖြစ်သော်လည်း **"အရိပ်နေနေ အခက်ချိုးချိုး"** အလုပ်မျိုးကို ဘယ်သောအခါကမှ မလုပ်ဖူးခဲ့ပါ။ အခုလည်း မလုပ်လိုပါ။ အဘယ့်ကြောင့်ဆိုသော် ဤကျောင်းကြီးသည် သံဃာတော်များအပေါ်၌ မေတ္တာတရားနှင့် ကျေးဇူးတရားများ များပြားလှသောကြောင့်ဖြစ်သည်။

ဤကျောင်းကြီးသည် ဤကျောင်း၌ နေထိုင်ခဲ့ကြကုန်သော သံဃာတော်များကိုလည်းကောင်း၊ ပြည်နယ်အသီးသီး၊ နိုင်ငံအသီးသီးတို့မှ ကြွရောက်တော်မူလာကြကုန်သော အာဂန္တုကရဟန်း သံဃာတော်များကိုလည်းကောင်း ဘေးမသီ၊ ရန်မခအောင် စောင့်ရှောက်ပေးခဲ့၍ အထူးပဲ ကျေးဇူး တင်ရပါသည်။ ဒေသအသီးသီး၊ နိုင်ငံအသီးသီးသို့ ပြန်ကြွသွားတော်မူခဲ့ကြကုန်သော ဆရာတော်၊ သံဃာတော်များသည်လည်း ဤကျောင်းကြီးကို အမှတ်တရ ရှိနေခဲ့ကြပြီး၊ နေစဉ်အခိုက်မှာလည်း ရွှင်လန်းချမ်းမြေ့စွာ နေထိုင်ခဲ့ကြရ၍ ဤကျောင်းကြီးကို ဘယ်သောအခါမှ မေ့နိုင်မည်မဟုတ်ပါဟူ၍ ပြောဆိုလာကြပြန်သည်။ သတိရသူတိုင်း ပျော်၍ ပျော်သူတိုင်းလည်း ပြုံးနိုင်ကြပါစေ။

ကျောင်းသစ်သို့ ပြောင်းရွှေ့ကြရပေမဲ့ ကျောင်းဟောင်းကိုတော့ ဒီတစ်သက်မှာ မေ့နိုင်မည် မဟုတ်ပါ။ ဖြစ်နိုင်လျှင် ကျောင်းဟောင်းကို မရောင်းပဲထားပြီး ကမ္မဋ္ဌာန်းရိပ်သာအတွက် နေရာသစ် တစ်ခုကို ဖန်တီးလိုသော်လည်း ငွေကြေးမတတ်နိုင်၍ ကျောင်းဟောင်းကို တန်ဖိုးသင့်ပြီး၊ အရွှေ့ အပြောင်းပြုလုပ်ကြရမည်ဖြစ်သည်။ ထိုကဲ့သို့ ပြုလုပ်ရခြားသော်လည်း နှလုံးသားထဲမှာတော့ သူမှသူပဲ ဆိုတာမျိုးလို တကယ်ပဲ လွမ်းမိပါသည်။

ထို့ကြောင့် လွမ်းနေသူတို့အတွက် အလွမ်းသံသရာတွေ မရှည်နိုင်စေဖို့ စိတ်မှာသတိကပ်ပြီး အသိတရားနှင့် ဆင်ခြင်ကြည့်နိုင်ကြဖို့ပါ။



နေအဝင်၊
ရောင်စဉ်တွေဖြာမှုဖြင့်။
နေမကွယ်၊
တောင်စွယ်ရဲ့ ဟိုဖက်နားမှာ။
လွမ်းသူကို၊
မျက်ရည်မကျစေဖို့။
ဖျော့လျှတဲ့ နေရောင်အောက်မှာ၊
အားယူကာ ပြုံးနေရှာသည့်၊
ဘုန်းထေရ်မဟာတို့ ထားခဲ့သည့်ကျောင်း။

ပြန်လာ(ကြည့်)လျှင်၊
အလွမ်းတွေ ပြေစေဖို့။
အရှုံးတွေကျန်တဲ့ ဒဏ်ရာဟောင်းနှင့်၊
အပြောင်းအလဲရှိခဲ့တဲ့ သည်နေရာမှာ။
မေတ္တာဆိုတဲ့ ချစ်ခြင်းမျိုးနဲ့၊
ခွင့်လွှတ်ရိုးရှိတဲ့ မိခင်ရဲ့နှလုံးသားလို။
ပြန်လာလျှင် နေရာပေးဖို့။
အားယူကာ ပြုံးနေရှာသည့်၊
တစ်ခါက ဘုန်းထေရ်မဟာတို့ကျောင်း။



ချမ်းသာစွာ အိပ်စက်နိုင်ကြပါစေ။
ဘိက္ခုဓမ္မပိယ (USA)